ကုမ္ပဏီအမည် - MJ Parkview Healthcare Limited

လုပ်ငန်း - Private Hospital Services

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၂၀-၁၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၄၈/၂၀၁၆ သို့တင်ပြခြင်း | ၂၆-၁၂-၂၀၁၆ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၃-၁-၂၀၁၇ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၈-၁၂-၂၀၁၆ | ၂၄-၁-၂၀၁၇ | |
| | (ခ) ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန | ၂၈-၁၂-၂၀၁၆ | ၁၀-၁-၂၀၁၇ | |
| | (ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၇-၁၂-၂၀၁၆ | ၁၂-၁-၂၀၁၇ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၆-၁-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၃-၃-၂၀၁၇ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း(၅/၂၀၁၇) MIC | ၁၃-၃-၂၀၁၇ | | |
| | စုစုပေါင်းကြာမြင့်ရက် ၅၂ ရက် | | | |

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MJ Parkview Healthcare Limited မှ Private Hospital services လုပ်ငန်းအား လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | MJ Parkview Healthcare Limited | Private Hospital services | ၄၈/၂၀၁၆<br>၂၆-၁၂-၂၀၁၆ | (က) ဖက်စပ်စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ်ပြင်ဆင်တင်ပြရန်<br>(ခ) ဝန်ထမ်းလစာ ပြင်ဆင် တင်ပြရန်<br>(ဂ) တင်သွင်းမည့် ဆေးရုံသုံးပစ္စည်းများနှင့်စက်ပစ္စည်းများအတွက် ဈေးနှုန်း၊တန်ဖိုး၊ အရေအတွက်တိကျစွာ ဖော်ပြရန် | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | MJ Parkview Healthcare Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | Private Hospital services |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၃၀/၃၁)၊ မြေကွက်အမှတ် ၇/ဃ<sup>၁</sup>+၁+၂/ခ+၃+၄+၉+၁၀/ခ<sup>၁</sup>+ ၁၁+၁၇/က<sup>၂</sup>+၂၂/ခ<sup>၂</sup> ရှိ မြေဧရိယာ(၁၂.၇၂၁) ဧကအနက်မှ မြေ (၂.၃) ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ **၁၄၉.၅၁၉** သန်း |
| ဝန်ဆောင်မှုပေးမည့်စနစ် | - | ပြည်တွင်းဝန်ဆောင်မှု ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၅၀ နှစ်( သက်တမ်းတိုး ၁၀ နှစ်၊ နှစ်ကြိမ်) |
| အရင်းကြေကာလ | - | ၁၄ နှစ် |
| IRR | - | ၁၃.၇၅% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည် -

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၀.၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၄၁၂၈.၈၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၉,၂၇၅.၅၀ သန်း | ကျပ် ၃၅,၂၈၂.၀၀ သန်း |
| ၅ | လောင်စာဆီ | | ကျပ် ၃၁၈.၈၆ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၂,၄၃၁.၀၀ သန်း |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် (၄၈) သိန်း ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၉၀) ဦး |
| ၈ | မြေနှင့်အဆောက်အဦး ငှားရမ်းခရငွေ | | ကျပ် ၂၃,၁၄၀.၇၇ သန်း |
| ၉ | CSR ( %) | | ကျပ် ၁,၁၂၇.၉၉ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၄၅၁ ဦး/ ပြည်ပ ၉ ဦး |
| | | | ပြည်တွင်းလုပ်သား (၄၅၁) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက် အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | ကျပ် ၁၃,၄၀၇.၃၀ သန်း | ကျပ် ၆၂,၃၀၁.၁၂ သန်း |
| | | ၁း၄ | |

## လို၍ဝှက်

## ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MJ Parkview Healthcare Limited တည်ထောင်၍ Private Hospital services လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - MJ Parkview Healthcare Limited |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - U Myint Htay Win |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- QRR Healthcare Pte Ltd. (စင်ကာပူ) ၄၀ %<br>- Sky Healthcare Pte Ltd. (စင်ကာပူ) ၃၀ %<br>- Yee Shin Holding Co Ltd. (မြန်မာ) ၃၀ % |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Private Hospital services |
| ၅။ | လုပ်ငန်းနေရာ/<br>မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၃၀/၃၁)၊ မြေကွက်အမှတ် ၇/ဃ$^{၁}$+၁+၂/ခ+၃+၄+၉+၁၀/ခ$^{၁}$+၁၁+၁၇/က$^{၂}$+၂၂/ခ$^{၂}$ ရှိ မြေဧရိယာ(၁၂.၇၂၁) ဧကအနက်မှ မြေ (၂.၃) ဧက |
| | မြေပိုင်ရှင် | - ဒေါ်မိုးမိုး |
| | မြေငှားရမ်းကာလ | - ကနဦး(၅၀ နှစ်)၊ သက်တမ်းတိုး (၁၀)နှစ်(၂)ကြိမ် |
| | မြေငှားခ(နှစ်စဉ်) | - တစ်စတုရန်းမီတာလျှင်(US$ ၃၈.၂၄၇) |

| | | | | |
|---|---|---|---|---|
| ၆။ | **မတည်ရင်းနှီးငွေပမာဏ** | **- အမေရိကန်ဒေါ်လာ (၁၄၉.၅၁၉) သန်း** | | |
| | **ထည့်ဝင်မည့်အမျိုးအစား** | **နိုင်ငံခြား**<br>**US$(သန်း)** | **မြန်မာ**<br>**US$(သန်း)** | **စုစုပေါင်း**<br>**US$(သန်း)** |
| | **ငွေသား** | ၅.၈၈ | ၂၂.၀၅ | ၂၇.၉၃ |
| | **ဆေးရုံသုံးပစ္စည်းများ** | ၄၀.၂၂ | ၀.၁၈ | ၄၀.၄၀ |
| | **မော်တော်ကား** | ၀.၁၅ | - | ၀.၁၅ |
| | **စက်ပစ္စည်း(ဆောက်လုပ်ရေး လုပ်ငန်းသုံး)** | ၁၆.၇၂ | - | ၁၆.၇၂ |
| | **ပရိဘောဂအသုံးအဆောင်ပစ္စည်း** | ၁.၃၀ | ၀.၆၀ | ၁.၉၀ |
| | **စက်ပစ္စည်း(လုပ်ငန်းသုံး)** | ၅.၁၂ | - | ၅.၁၂ |
| | **ဆောက်လုပ်ရေး (အသုံးစရိတ်)** | ၂၂.၈၁ | ၁၃.၆၉ | ၃၆.၅၀ |
| | **မြေငှားရမ်းခ** | ၁၂.၄၆ | ၅.၃၄ | ၁၇.၈၀ |
| | **ရုံးအသုံးအဆောင်ပစ္စည်း** | - | ၃.၀၀ | ၃.၀၀ |
| | **စုစုပေါင်း** | ၁၀၄.၆၆ | ၄၄.၈၆ | ၁၄၉.၅၁ |

| | | |
|---|---|---|
| ၇။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |

| | | | | |
|---|---|---|---|---|
| ၈။ | ဝန်ဆောင်မှု (ဆဋ္ဌမမြောက်နှစ်)<br>ဝန်ဆောင်မှုအမျိုးအစား | **ဝန်ဆောင်မှု**<br>**အမျိုးအစား** | **အရေအတွက်** | **ဝန်ဆောင်ခနှုန်း**<br>**(US$)** |
| | | VIP | ၄,၆၅၄ | ၂၂၀ |
| | | Single Bed | ၆၀,၁၈၈ | ၁၁၈ |

## လို၍ဝှက်

Salient

| | | |
|---|---|---|
| | | Four Bed ၁,၂၄၀၀ ၅၉<br>Six Bed ၁၃,၆၅၀ ၄၄<br>Eye Center ၂၆၂,၈၀၀ ၃,၂၃၃<br>Endoscopy ၈၄၀,၉၆၀ ၁၇၀<br>Laboratory ၂၉၈,၅၇၀ ၂၉<br>CT ၄,၅၀၀ ၂၅၀<br>MRI ၁,၀၈၀ ၄၁၁<br>Rehabilitation ၁,၆၂၀ ၇၃ |
| ၉။ | ကုမ္ပဏီ၏(ဆဋ္ဌမမြောက်နှစ်)<br>ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | <br>US$ ၉၅.၇၃ သန်း<br>US$ ၈၅.၀၉ သန်း<br>US$ ၁၀.၆၄ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်<br>(ဆဋ္ဌမမြောက်နှစ်)<br>အကျိုးအမြတ်<br>ဝင်ငွေခွန် | - US$ ၃.၅၄၇ သန်း |
| ၁၁။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၄၅၀ ဦး(ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံးလစာ မှာ ကျပ် ၃,၅၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ပြည်ပ ၉ ဦး(ပြည်ပလုပ်သားတစ်ဦး ၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀,၀၀၀,၀၀၀၊ အမြင့်ဆုံးလစာမှာ ကျပ် ၅၀,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၁၂။ | အရင်းကြေကာလ | - ၁၄ နှစ် |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၃.၇၅ % |
| ၁၄။ | ငွေကြေးအထောက်အထား | -ငွေကြေးအထောက်အထား အနေဖြင့် ဒေါ်လှလှ အမည်ဖြင့် (၅-၁၂- ၂၀၁၆) ရက်စွဲဖြင့် မြဝတီ ဘဏ်၌ ကျပ် ၄၁,၈၂၅,၁၁၁.၀၇ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSR လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ % အသုံးပြုသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက် ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၇။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၇,၀၀၀,၀၀၀ kWh |


Salient

| | | |
|---|---|---|
| ၁၈။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ Environmental Quality Management Co., Ltd မှ ပြုစုရေးသားလျက်ရှိပါကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | အခြားတင်ပြချက်များ | - MJ Parkview Healthcare Limited ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဖက်စပ်စာချုပ်(မူကြမ်း)၊ မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ MJ Parkview Healthcare Limited နှင့် Bankok Bank Public Company Limited တို့ချုပ်ဆိုမည့် Loan Agreement (မူကြမ်း)၊ QRR Healthcare Pte Ltd. ၏ Company Profile၊ SKY Healthcare Pte Ltd. ၏ Company Profile၊ Yee Shin Holding Co Ltd ၏ ကုမ္ပဏီမှတ်ပုံတင်(မိတ္တူ)ရင်းနှီးမြှုပ်နှံသူများ၏ Passport (မိတ္တူ) များနှင့် နိုင်ငံသားစိစစ်ရေးကဒ်(မိတ္တူ)တို့အား တင်ပြထားပါသည်။<br>- MJ Parkview Healthcare Limited မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းရေးစီမံချက်၊ CSR ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်း သက်သာချောင်ချိရေး စီမံချက်များ တင်ပြထားပါသည်။ |
| ၂၀။ | စိစစ်တင်ပြချက် | (က)ပုဂ္ဂလိကဆေးခန်းဝန်ဆောင်မှုလုပ်ငန်းသည် ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာ အမှတ် ၂၆/၂၀၁၆ အရ ကျန်းမာရေးနှင့်အားကစား ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့်ဖက်စပ် စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ရှိသော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>(ခ) အဆိုပြုမြေနေရာ(၁၂.၇၂၁) ဧက အနက် (၉.၇၁၈) ဧကသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်နေပြီး ကျန်ရှိသော (၂.၉၉၄)ဧက မှ (၂.၃) ဧက ကို ဆောင်ရွက်မည် ဟု ဖော်ပြထားပါသည်။<br>(ဂ) ပြည်ပမှ US$(၆၃.၅၁) သန်း တန်ဖိုးရှိ စက်ပစ္စည်း၊ဆေးရုံသုံးပစ္စည်း၊ ဆောက်လုပ်ရေးသုံးပစ္စည်း၊ Ambulance(၃)စီး တင်သွင်းမည်ဖြစ်ပါသည်။<br>(ဃ)ကော်မရှင်ခွင့်ပြုမိန့်ရရှိပါက ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာနသို့ သက်ဆိုင်ရာ လုပ်ငန်းလိုင်စင် လျှောက်ထားရန် လိုအပ်ပါသည်။<br>(င) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် MJ Parkview Healthcare Limited နှင့် Bangkok Bank Puplic Company Limited တို့ချုပ်ဆိုမည့် Loan Agreement (မူကြမ်း) နှင့်အတူ မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ သဘောထားတောင်းခံထားဆဲ ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက - ၅(အ)/န-၀၂၆/၂၀၁၇(      )

ရက်စွဲ၊    ၂၀၁၇ ခုနှစ် ၊ မတ်လ          ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် MJ Parkview Healthcare Limited တည်ထောင်၍ Private Hospital Services လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ QRR Healthcare Pte Ltd. မှ ၄၀%၊ စင်ကာပူနိုင်ငံ Sky Healthcare Pte Ltd. မှ ၃၀% နှင့် မြန်မာနိုင်ငံ Yee Shin Holdings Co., Ltd. မှ ၃၀% ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MJ Parkview Healthcare Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၃၀၊၃၁)၊ မြေကွက်အမှတ် ၇/ဃ၁+၁+၂/ခ+၃+၄+၉+၁၀/ခ၁+၁၁+ ၁၇/က၂+၂၂/ခ၂ ရှိ မြေဧရိယာ(၁၂.၇၂၁) ဧကအနက်မှ မြေ (၂.၃) ဧကကို ငှားရမ်းပြီး Private Hospital Services လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ MJ Parkview Healthcare Limited ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဖက်စပ်စာချုပ်(မူကြမ်း)၊ မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)၊ MJ Parkview Healthcare Limited နှင့် Bangkok Bank Public Company Limited တို့ ချုပ်ဆိုမည့် Loan Agreement (မူကြမ်း) တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ လုပ်ငန်းဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၃၀၊ ၃၁)၊ မြေကွက်အမှတ် ၇/ဃ၁+၁+၂/ခ+၃+၄+၉+၁၀/ခ၁+၁၁+၁၇/က၂+၂၂/ခ၂ ရှိ မြေဧရိယာ (၁၂.၇၂၁) ဧက အနက်မှ မြေ ၂.၃ ဧက (၉,၃၀၇.၇၇ စတုရန်းမီတာ) အား မြေငှားရမ်းခနှုန်း တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၃၅၆,၀၀၀(တစ်စတုရန်းမီတာလျှင် တစ်နှစ် US$ ၃၈.၂၄၇) နှုန်းဖြင့် (၅၀)နှစ် ငှားရမ်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ လုပ်ငန်း၏သက်တမ်းကာလမှာ ၅၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၃)နှစ် ကြာမြင့်မည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၄၉.၅၁၉ သန်းဖြစ်ပြီး စက်နှင့်စက်ကိရိယာပစ္စည်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ၊ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်း တန်ဖိုးအမေရိကန်ဒေါ်လာ ၆၃.၅၁ သန်း ကို ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ မတည်ငွေရင်း ထည့်ဝင်မှု အမျိုးအစားများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်မည့်အမျိုးအစား | နိုင်ငံခြား US$(သန်း) | မြန်မာ US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|
| ငွေသား | ၅.၈၈ | ၂၂.၀၅ | ၂၇.၉၃ |
| ဆေးရုံသုံးပစ္စည်းများ | ၄၀.၂၂ | ၀.၁၈ | ၄၀.၄၀ |
| မော်တော်ကား | ၀.၁၅ | - | ၀.၁၅ |
| စက်ပစ္စည်း(ဆောက်လုပ်ရေး လုပ်ငန်းသုံး) | ၁၆.၇၂ | - | ၁၆.၉၀ |
| ပရိဘောဂအသုံးအဆောင်ပစ္စည်း | ၁.၃၀ | ၀.၆၀ | ၁.၉၀ |
| စက်ပစ္စည်း(လုပ်ငန်းသုံး) | ၅.၁၂ | - | ၅.၁၂ |
| ဆောက်လုပ်ရေး(အသုံးစရိတ်) | ၂၂.၈၁ | ၁၃.၆၉ | ၃၆.၅၀ |
| မြေငှားရမ်းခ | ၁၂.၄၆ | ၅.၃၄ | ၁၇.၈၀ |
| ရုံးအသုံးအဆောင်ပစ္စည်း | - | ၃.၀၀ | ၃.၀၀ |
| **စုစုပေါင်း** | **၁၀၄.၆၆** | **၄၄.၈၆** | **၁၄၉.၅၁** |

(အမေရိကန် ၁ဒေါ်လာလျှင် ကျပ်၁၃၀၀ နှုန်းဖြင့် တွက်ချက်ထားပါသည်။)

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၄၅၁)ဦးနှင့် ပြည်ပဝန်ထမ်း(၉)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၃,၅၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀,၀၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှာ ကျန်းမာရေးဆိုင်ရာ စစ်ဆေးမှုများ ပြုလုပ်ပေးခြင်း၊ ကျွမ်းကျင်ဝန်ထမ်းများဖြင့် ရောဂါရှာဖွေခြင်း၊ လိုအပ်သော ဆေးဝါးကုသမှုပေးခြင်း စသည့် ပုဂ္ဂလိကဆေးရုံ ဝန်ဆောင်မှုလုပ်ငန်းနှင့် ကျန်းမာရေးဆိုင်ရာ ဝန်ဆောင်မှု လုပ်ငန်းများ ကို ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်း၏ (ဆဋ္ဌမမြောက်နှစ်) ဝန်ဆောင်မှုပေးမည့် အမျိုးအစား နှင့် ဝန်ဆောင်ခနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| ဝန်ဆောင်မှု အမျိုးအစား | အရေအတွက် | နှုန်းထား (USS) |
|---|---|---|
| VIP | ၄,၆၅၄ | ၂၂၀ |
| Single Bad | ၆၀,၁၈၈ | ၁၁၈ |
| Four Bed | ၁၂,၄၁၀ | ၅၉ |
| Six Bed | ၁၃,၆၅၁ | ၄၄ |
| Eye Center | ၂၆၂,၈၀၀ | ၃,၂၃၃ |
| Endoscopy | ၈၄၀,၉၆၀ | ၁၇၀ |

| | | |
|---|---|---|
| Laboratory | ၂၉၈,၅၇၀ | ၂၉ |
| CT | ၄,၅၀၀ | ၂၅၀ |
| MRI | ၁,၀၈၀ | ၄၁၁ |
| Rehabilitation | ၁,၆၂၀ | ၇၃ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့်ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အကြောင်းအရာ | US$(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၉၅.၇၃ |
| ( ခ ) | အသုံးစရိတ် | ၈၅.၀၉ |
| ( ဂ ) | အသားတင်အမြတ် | ၁၀.၆၄ |

၁၀။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၃.၅၅ သန်း ဖြစ်ပါသည်။ အရင်းကြေကာလမှာ ၁၄နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၃.၇၅ % ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ **ဝန်ကြီးဌာနများနှင့်** အဖွဲ့အစည်းများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါ သည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်း ရပ်ကွက်အမှတ်(၃၀/၃၁)၊ မြေကွက်အမှတ် ၇/ဃ^၁+၁+၂/ခ+၃+၄+၉+၁၀/ခ^၁+၁၁+ ၁၇/က^၂+၂၂/ခ^၂ ရှိ မြေဧရိယာ(၁၂.၇၂၁) ဧကအနက်မှ မြေ (၂.၃) ဧကကို ငှားရမ်းပြီး Private Hospital Services လုပ်ငန်းအား (၁၉-၁-၂၀၁၇) ရက်နေ့တွင် ကျင်းပ သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၇)၊ ဆုံးဖြတ် ချက်အပိုဒ်(၂၉)အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း များကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR)အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်

ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး မထိခိုက်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် **ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental and Social Impact Assessment-ESIA)** ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက် အလက်များနှင့်အညီ အစီရင်ခံစာရေးဆွဲတင်ပြရန်၊ အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး(သို့မဟုတ်)ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)** အား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ စီမံကိန်းဆောင်ရွက်မည့်သူများ အနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ** Environmental Quality Management Co., Ltd မှ **ပြုစုရေးသားလျက်ရှိပါကြောင်း တင်ပြထားပါသည်)** **နောက်ဆက်တွဲ-ခ**

(ဂ) **ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာနမှ** အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာနအနေဖြင့် ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာ နည်းဥပဒေ နှင့်အညီဆောင်ရွက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း၊ အဆောက်အဦ ဆောက်မည်ဆိုပါက ပုဂ္ဂလိကကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဥပဒေ အခန်း(၉) ပုဒ်မ(၁၁) အရ အဆောက်အဦကြိုတင်ခွင့်ပြုချက် လျှောက်ထားရမည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ- ဂ

၁၂။ ငွေကြေးအထောက်အထားအဖြစ် ဒါရိုက်တာဒေါ်လှလှ အမည်ဖြင့် (၅-၁၂-၂၀၁၆) ရက်စွဲ ဖြင့် မြဝတီဘဏ်၌ ကျပ် ၄၁,၈၂၅,၁၁၁.၀၇ ရှိကြောင်း တင်ပြထားပါသည်။

၁၃။ မီးဘေးကာကွယ်ရေးအစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်များ၊ CSR အနေဖြင့် လုပ်ငန်းလည်ပတ်မှုမှရရှိမည်ဟု ခန့်မှန်းထားသည့် အသားတင်အမြတ်ငွေမှ ၂ % ကို ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုလုပ်ငန်းအစီအစဉ်များတွင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပြုလုပ်ငန်းအား ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄၈/၂၀၁၆ ) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပါလုပ်ငန်းသည် ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ အရ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့် ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်ပမှ အမေရိကန်ဒေါ်လာ ၆၃.၅၁ သန်းတန်ဖိုးရှိ စက်နှင့် စက်ကိရိယာပစ္စည်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ၊ ဆောက်လုပ်ရေးလုပ်ငန်း သုံးပစ္စည်းများကို တင်သွင်းမည်ဖြစ်ပါသည်။ အခွန်အကောက်ကင်းလွတ် ခွင့်နှင့် သက်သာခွင့်ခံစားနိုင်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။

(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပါက ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာနသို့ သက်ဆိုင်ရာ လုပ်ငန်းလိုင်စင် လျှောက်ထားရန်လိုအပ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် MJ Parkview Healthcare Limited နှင့် Bankok Bank Puplic Company Limited တို့ချုပ်ဆိုမည့် Loan Agreement (မူကြမ်း) နှင့်အတူ မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ သဘောထားတောင်းခံထားဆဲဖြစ်ပါသည်။

(င) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တစ်ဖက်ပါအတိုင်း ကျန်းမာရေးဝန်ဆောင်မှု လုပ်ငန်းများအား ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်-

| စဉ် | ကုမ္ပဏီအမည် | ခွင့်ပြုမိန့် အမှတ် / ရက်စွဲ | လုပ်ငန်းအမျိုးအစား | တည်နေရာ | ရင်းနှီးမြှုပ်နှံမှုပုံစံ |
|---|---|---|---|---|---|
| ၁ | Andaman Alliance Healthcare Limited | ၁၀၄၅/၂၀၁၆ (၂၉-၁-၂၀၁၆) | Private Hospital Services | မြေတိုင်းရပ်ကွက်အမှတ်(၂၀^F)၊ မြေကွက်အမှတ်(၁၀^B)၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းနှင့် ပြည်လမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | ဖက်စပ် |
| ၂ | Yoma Siloam Hospital Pun Hlaing Co., Ltd | ၁၁၉၈/၂၀၁၆ (၁၂-၁၁-၂၀၁၆) | Private Hospital | အမှတ်(၇၄၀)၊ ၇၃ လမ်း၊ ၃၁ လမ်းနှင့် ၃၂ လမ်းကြား၊ ရန်မြိုးလုံရပ်ကွက်၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး | ဖက်စပ် |

**ဆုံးဖြတ်ရန်အချက်**

၁၇။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MJ Parkview Healthcare Limited မှ Private Hospital Services လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိုစွန့်စပ်လျဉ်း၍ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | MJ Parkview Healthcare Limited | (၁) U Myint Htay Win 13/ La Ya Na (N) 111071 | No-9 Yaw Min Gyi Road, C1L5, Dagon Township, Yangon Region |
| ၂။ | | (၂) Mr. Colin Cheong Wei Yen S 7601935 E(Singapore) | 721 Tampines Street 71, # 12-222, Tampines Starlight, Singapore(520721) |
| ၃။ | | (၃) Mr. Sudarpo Herlina S 8275694I (Singapore) | 183 A Rivervale Crescent, # 05-261, Singapore (541183) |
| ၄။ | | (၄) U Kyi Shin 9/ Ma Ya Ma(N) 026756 | No.21 Ziwaka Road. Payar Gyi Qtr, Dagon Township, Yangon |
| ၅။ | | (၅) Daw Hla Hla 9/ Ma Ya Ma(N) 026757 | No.51, 6 th Street, Thiri Mon Housing, Hlaing Township, Yangon |
| ၆။ | | (၆) Mr. Katsutoshi Kitaura TH 6267482(Japan) | 1, Temasek Avenue # 19-00, Millenia Tower, Sinhapore(39192) |
| ၇။ | | (၇) Mr. Yutaka Suzuki | 1, Temasek Avenue # 19-00, Millenia Tower, Sinhapore(39192) |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ - ၀၉-၉၇၁၈၇၄၄၄၅၊
၂။ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -
၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဦးမြင့်ဌေးဝင်း(မန်နေဂျင်းဒါရိုက်တာ)
၄။ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - MJ Parkview Healthcare Limited

၅။ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -
၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -
၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီ လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၈. ၁၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရကာ-၅(အ)/ န-၀၂၆/၂၀၁၆(၅၈၈)

၁။ စင်ကာပူနိုင်ငံ QRR Healthcare Pte Ltd. မှ ၄၀%၊ စင်ကာပူနိုင်ငံ Sky Healthcare Pte. Ltd. မှ ၃၀%နှင့် မြန်မာနိုင်ငံ Yee Shin Holding Co., Ltd. မှ ၃၀% ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MJ Parkview Healthcare Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၃၀/၃၁)၊ မြေကွက်အမှတ်-၇/ဃ°+၁+၂/ခ+၃+၄+၉+၁၀/ခ°+၁၁+၁၇/က၂+၂၂/ခ၂ ရှိ မြေဧရိယာ (၁၂. ၇၂၁)ဧကအနက်မှ မြေ(၂. ၃)ဧကကို ငှားရမ်းပြီး Private Hospital Services လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၁၉. ၁. ၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၉)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
MJ Parkview Healthcare Limited

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁(၁၇ / ၁၇)
ရက် စွဲ ၊၂၀၁၆ခုနှစ် ဇန်နဝါရီလ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့

အကြောင်းအရာ။ **MJ Parkview Healthcare Limited မှ Private Hospital Services လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၁၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၂၆/ ၂၀၁၆(၅၈၇)

၁။ စင်္ကာပူနိုင်ငံ ARR Healthcare Pte ltd. မှ ၄၀%၊ Sky Healthcare Pte Ltd. မှ ၃၀% နှင့် မြန်မာနိုင်ငံ Yee Shin holding Co., Ltd. မှ ၃၀% အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MJ Parkview healthcare Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (၃၀/၃၁)၊ မြေကွက်အမှတ် ၇/ဃ$^{၁}$+၁+၂/ခ+၃+၄+၉+၁၀/ခ$^{၁}$+၁၁+၁၇/က၂+၂၂/ခ$^{၂}$ ရှိ မြေဧရိယာ ၁၂.၇၂၁ ဧက အနက်မှ မြေ ၂.၃ ဧက (၉၃၀၇.၇၇၈ စတုရန်းမီတာ) ကို ငှားရမ်းပြီး Private Hospital Services လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ် ဖြစ်ပြီး၊ သက်တမ်းတိုးခြင်းအား (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၃) နှစ်ဖြစ်ကြောင်း၊

(ခ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းများသက်သာချောင်ချိရေးများကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) အားလူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြု ဆေးရုံတည်ဆောက်မည့်နေရာရှိ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်ရေးနှင့် ကာကွယ်ရေးတို့ကို တာဝန်ယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု မရှိစေရေး သေချာမှုရှိစေရန် ပတ်ဝန်းကျင်လေထု၊ မြေထု၊ရေထု ညစ်ညမ်းမှုမရှိစေရန် ထိန်းသိမ်းကာကွယ်သွားမည်ဖြစ်ကြောင်း၊ ဆေးရုံစွန့်ပစ်ပစ္စည်းများဖြစ်သော ဆေးထိုးအပ်များ၊ ကူးစက်ရောဂါဖြစ်ပွားစေနိုင်သော စွန့်ပစ်ပစ္စည်းများနှင့် အခြားသော ဆေးရုံသုံးစွန့်ပစ်ပစ္စည်းများအား ကမ္ဘာ့ကျန်းမာရေးအဖွဲ့ကြီးမှ ထုတ်ပြန်ထားသော စံချိန်စံညွှန်းများနှင့်အညီစနစ်တကျ ခွဲခြားစွန့်ပစ်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်နှင့် သဘာဝရေအရင်းအမြစ်များကို ထိခိုက်ပျက်စီးမှုမရှိစေရန် စွန့်ပစ်ရေဆိုးများအား သန့်စင်ပြီးမှသာလျှင် စွန့်ပစ်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) MJ Parkview Healthcare Limited မှ ဆေးရုံတည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသား ပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှထွက်ရှိလာမည့် မြေသား အမှုန်အမွှား၊ ဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင် လေထုနှင့် မြေထု ညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်နှင့် ဖိတ်စင်စက်သုံးဆီများ၊ ဆူညံသံများနှင့် အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်း၊ မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) ဆေးရုံလုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ထွက်ရှိလာမည့် ဆေးရုံသုံးဘေးအန္တရာယ်ရှိစွန့်ပစ်ဆေးပစ္စည်းများ၊ ဓာတုဗေဒပိုးသတ်ဆေးရည်များ၊ ခွဲစိတ်ပြီး စွန့်ပစ်မည့် လူ့ခန္ဓာကိုယ်အစိတ်အပိုင်းများ၊ ကူးစက်ရောဂါ ဖြစ်စေသော စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့် အနီးပတ်ဝန်းကျင်ရှိ ပြည်သူလူထုအား ကူးစက်ရောဂါနှင့် ဘေးအန္တရာယ်များ ဖြစ်ပွားစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ MJ Parkview Healthcare Limited မှ Private Hospital Services လုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးမထိခိုက်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် **ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment-ESIA)** ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်

ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန

ဝန်ကြီးရုံး

နောက်ဆက်တွဲ-၈

စာအမှတ်၊ ၁၂မခ(က)၂၀၁၇(၈၇) ၆၇၈

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ(၁၈)ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၈-၁၂-၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/န-၀၂၆/၂၀၁၆(၅၈၉)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ စင်္ကာပူနိုင်ငံ QRR Healthcare Pte Ltd. မှ ၄၀%၊ စင်္ကာပူနိုင်ငံ Sky Healthcare Pte Ltd. မှ ၃၀% နှင့် မြန်မာနိုင်ငံ Yee Shin Holding Co Ltd .မှ ၃၀% ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MJ Parkview Healthcare Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၃၀/၃၁)၊ မြေဧရိယာ(၁၂.၇၂၁)ဧကအနက်မှ မြေ(၂.၃)ဧကကို ငှားရမ်းပြီး Private Hospital Services လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန အနေဖြင့် ပုဂ္ဂလိက ကျန်းမာရေးလုပ်ငန်းဆိုင်ရာ နည်းဥပဒေနှင့်အညီ ဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း၊ အဆောက်အဦ ဆောက်မည်ဆိုပါက ပုဂ္ဂလိက ကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဥပဒေ အခန်း(၉) ပုဒ်မ(၁၁)အရ အဆောက်အဦ ကြိုတင်ခွင့်ပြုချက် လျှောက်ထားရမည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန